# "နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ"

# ကထိန

ကထိနန္တိ ပဉ္စာနိသံသေ အန္တောကရဏသမတ္ထတာယ ထိရန္တိ အတ္ထော။ ဟူ၍- ဝိမတိဋီကာ၌ ဖွင့်ဆိုထားသည်။ (ဝိမတိဋီကာ- ၁၉၃)

အကျိုးအာနိသင်ငါးမျိုးတို့ကို အတွင်းပြုခြင်းငှာစွမ်းနိုင်သည့်အတွက် ခိုင်မြဲသောကြောင့် ကထိန်ဟုခေါ်သည်ဟု- အဓိပ္ပါယ်ရသည်။

ကထိန- ပုဒ်၌ 'က' ကို 'ကရဏ' ဟုဖွင့်- ပြုခြင်းဟုအဓိပ္ပါယ်ရ။

'ထိနံ' ကို 'ထိရံ' ဟုဖွင့်- ခိုင်မြဲခြင်းဟု အဓိပ္ပါယ်ရ။

ကထိနံ- ပုဒ်၏အဓိပ္ပါယ်ကို နားလည်အောင်ရှင်းပြရသော်----

ကထိန်ခင်းသည့်အတွက် ကထိန်ခင်းသောကျောင်းတိုက်၌ ကထန်ခင်းရာ၌ပါဝင်သော ရဟန်းအားလုံးတို့သည် ကထိန်အကျိုးအာနိသင်(၅)မျိုးကို ခံစားခွင့်ရကြသည်။ ထိုအာနိသင်(၅)မျိုးကို ကထိန်အနုမောဒနာပြုသော ရဟန်းတော်များရရှိခြင်းသည် ခိုင်မြဲ၏။ ပြောင်းလဲခြင်းလုံးဝမရှိ။ ခေတ်ကာလတွေမည်သို့ပင်ပြောင်းပါစေ၊ ပြောင်းလဲခြင်းလုံးဝမရှိ၊ ရမြဲရစမြဲ၊ ရခြင်းခိုင်မြဲ၏၊ ခိုင်မြဲစွာ အာနိသင်(၅)မျိုးကိုရရှိအောင် ကထိန်သင်္ကန်းကြီးကို ကထိန်ခင်းခြင်းက ပြုလုပ်ပေးခြင်းပင်ဖြစ်သည်ဟု- ကထိနံဝယ် 'က' ကိုအဓိပ္ပါယ်ဖွင့်ဆိုသင့်သည်။ က= ပြုခြင်း။ ထိန= ခိုင်မြဲခြင်း။ ကထိန= အာနိသင်(၅)မျိုးရအောင် ကထိန်သင်္ကန်းကြီးဖြင့် ကထိန်ခင်းခြင်းက ခိုင်မြဲစေသည်ဟု- ဖွင့်ဆိုခြင်းဖြစ်သည်။

## "ကထိန်ခွင့်ပြုရခြင်း၏ ရည်ရွယ်ချက်"

ဥပမာအားဖြင့်- စာမေးပွဲပြီးလို့ နွေရာသီကျောင်းပိတ်ချိန် (၃)လတာကာလအတွင်း၌ မိဘများက ကျောင်းသား/ကျောင်းသူ၊ သားငယ်, သမီးငယ်များအား ခရီးမသွားဘဲ အိမ်၌သာစွဲစွဲမြဲမြဲနေမည်ဆိုလျှင် ဆုလာဘ်များစွာပေးမည်ဟု ပြောဆိုဆုံးမလျှက် မိဘဆိုဆုံးမသည့်စကားကို လိုက်နာကျင့်သုံးကာ ခရီးမထွက်ဘဲ (၃)လပတ်လုံး အိမ်၌သာနေကြသော သား/သမီးငယ်၊ ကျောင်းသား/ကျောင်းသူတို့အား မိဘများက နှစ်သက်ကျေနပ်စွာဖြင့် ဘောပင်, ပေါင်တိန်, လက်ကိုင်ဖုန်း စသောဆုလာဘ်များကို ပေးကမ်းချီးမြှင့်သကဲ့သို့- ထို့အတူပင်တည်း။

ဝါတွင်း(၃)လ၌ ခရီးမထွက်ဘဲ ဝါဆိုဝါကပ်ရာကျောင်းတိုက်၌ နေထိုင်သောရဟန်းတော်များအား မြတ်စွာဘုရားက ဆုလာဘ်ပေးသောအားဖြင့် ကထိန်ခင်းခွင့်ပေးတော်မူခြင်းဖြစ်သည်ဟု- သုံးသပ်လျှင်မှန်ပေသည်။

# "ကထိန်အာနိသင်(၅)မျိုး၏ အစီပွါယ်"

၁။ **အနာမန္တစာရော–** သာမန်အားဖြင့် ရဟန်းတော်များသည် ကျောင်းတိုက်ထဲမှအပြင်သို့ ထွက်လိုလျှင် အခြားရဟန်းတစ်ပါးပါးကို အသိပေးပြီးမှသာ ထွက်ခွင့်ရသည်၊ အသိမပေးဘဲထွက်သွားလျှင် စာရိတ္တသိက္ခာပုဒ်အရ ပါစိတ်အာပတ်သင့်သည်၊ ကထိန်ခင်းလျှင် ထိုကျောင်းရှိကထိန်အာနိသင်ရ ရဟန်းအားလုံးတို့သည် ကထိန်ခင်းသည့်နေ့မှစ၍ တပေါင်းလပြည့်နေ့တိုင်အောင် (၅)လဝန်းကျင်အချိန်အတွင်း၌ မည်သည့်ရဟန်းကိုမျှ အသိပေးခွင့်တောင်းစရာမလိုဘဲ ကျောင်းတိုက်မှ အပြင်သို့ထွက်ခွင့်ရသည်၊ စာရိတ္တသိက္ခာပုဒ်ဖြင့် အာပတ်မသင့်။

၂။ **အသမာဒါနစာရော–** တိစီဝရိတ်ဓုတင်ဆောင်ရဟန်းသည် သင်္ကန်း(၃)ထည်နှင့် ကိုယ်မကွာရှိရမည်၊ ကိုယ်နဲ့မကွာရှိရမည်ဆိုရာ၌– နောက်နေ့အာရုဏ်တက်ချိန်တွင် သင်းပိုင်၊ ဧကသီ၊ နှစ်ထပ်သင်္ကန်းဟူသောသင်္ကန်း(၃)ထည်နှင့် ခန္ဓာကိုယ်နှင့်မကွာရှိနေရမည်ဟုဆိုလိုသည်၊ အကယ်၍(၃)ထည်တွင် သင်္ကန်းတထည်ထည်နှင့် ကင်းကွာနေလျှင် နိဿဂ္ဂိပါစိတ်အာပတ်သင့်သည်။

ကထိန်ခင်းလျှင် ထိုကျောင်းရှိ ကထိန်အာနိသင်ရ တိစီဝရိတ်ဓုတင်ဆောင်ရဟန်းများသည် ကထိန်ခင်းသည့်နေ့မှစ၍ တပေါင်းလပြည့်နေ့ထိ (၅)လဝန်းကျင် သင်္ကန်း(၃)ထည်တွင် တစ်ထည်ထည်နှင့် အထူးအားဖြင့် လေးလံသောနှစ်ထပ် ဒုကုဋ်သင်္ကန်းကြီးနှင့် ညဥ့်ကင်းနေထိုင်ခွင့်ရသည်၊ ကင်းကွာနေလျှင်လည်း အာပတ်မသင့်, အပြစ်မရှိ။

(၃) **ဂဏဘောဇန်–** ဆွမ်းအလှူရှင် ဒကာ, ဒကာမတို့က ရဟန်းတို့၏ဝေါဟာရမဟုတ် လူတို့၏ဝေါဟာရ အသုံးအနှုန်းစကားလုံးများဖြင့် ပြောဆိုပင့်ဖိတ်လျှင် ၎င်းဆွမ်းကို ရဟန်း(၄)ပါး (၄)ပါးထက်ပိုသော ရဟန်းတော်များသည် တစ်ပေါင်းတည်းခံယူ၍ မသုံးဆောင်သင့်၊ သုံးဆောင်လျှင် ဂဏဘောဇန ပါစိတ်အာပတ်သင့်၏။

**ဥပမာ။** ။ ဆွမ်းဟူသောဝေါဟာရ သုံးဆောင်၊ ဘုန်းပေး– ဟူသော ဝေါဟာရသည် ရဟန်းတို့အား လျှောက်ပတ်သော ဝေါဟာရအသုံးအနှုန်းများဖြစ်ကြပါသည်၊ ထမင်း– ဟူသောဝေါဟာရ၊ စား– ဟူသောဝေါဟာရ အသုံးအနှုန်းစကားလုံးများသည် လူတို့၏ဝေါဟာရသာဖြစ်သည်၊ ရဟန်းများနှင့် မသင့်လျှော်, မအပ်စပ်၊ ထို့ကြောင့်--

အရှင်ဘုရား မနက်ဖန်တပည့်တော်တို့အိမ်သို့ ရဟန်း(၄)ပါး၊(၅)ပါး၊ အပါး(၁၀၀) ထမင်းစားကြွတော်မူကြပါဟု– ရဟန်းတို့နှင့်မအပ်စပ်သောဝေါဟာရဖြင့် ပင့်ဖိတ်မှုကို လက်ခံ၍ အနည်းဆုံး(၄)ပါးမှစ၍ (၄)ပါးထက်ရဟန်းများ တစ်ပေါင်းတည်း ဆွမ်းအလှူခံ

[illegible] ဘုဉ်းပေးသုံးဆောင်ကြလျှင် ထိုရဟန်းအားလုံးတို့ ဂဏဘောဇနေပါစိတ် အာပတ်သင့်ကြသည်။

ကထိန်ခင်းလျှင် ထိုကျောင်းရှိကထိန်အာနိသင်ရရဟန်းတို့အား ထမင်းစားကြွပါဟု ပင့်ဖိတ်သော် လက်ခံ၍ (၄)ပါးထက်အလွန်ရဟန်းတို့ တစ်ပေါင်းတည်းခံယူသုံးဆောင်သော်လဲ အာပတ်မသင့်၊ (၅)လဝန်းကျင် ခံစားခွင့်ရသည်။

၄။ **ယာဝဒတ္ထစီဝရံ**- မြတ်စွာဗုဒ္ဓလက်ထက်တော်၌ ချုပ်ပြီးဆိုးပြီး အဆင်သင့်ဝတ်ရုံနိုင်သော သင်္ကန်းမရှိသေး၊ သင်္ကန်းအဖြစ်မရောက်သေးသော အဝတ်အပိုင်းအစများကိုသာ ဒကာ၊ ဒကာမများက လှူကြသည်၊ ထိုသင်္ကန်းလျာ အဝတ်အပိုင်းအစများကို အလှူခံရရှိသည့်နေ့မှ (၁၀)ရက်အတွင်း၌ အဓိဋ္ဌာန်ဝိကပ္ပနာ ဝိနည်းကံပြုရသည်၊ ဝိနည်းကံမပြုဘဲ (၁၀)ရက်ကျော်လွန်သွားလျှင် ထိုအဝတ်လျာများသည် စွန့်လွှတ်အပ်သောအနေအထားသို့ရောက်သွားသည်၊ ရဟန်းတော်များလည်း နိဿဂ္ဂိပါစိတ်အာပတ်သင့်ကြသည်။

ကထိန်ခင်းလျှင် ထိုကျောင်း၌ ကထိန်အာနိသင်ရရဟန်းတို့သည် ကထန်ခင်းသည့်နေ့မှ တပေါင်းလပြည့်နေ့ထိ (၅)လတာကာလ၌ အဓိဋ္ဌာန်ဝိကပ္ပနာမပြုဘဲ အလှူခံရရှိထားသောသင်္ကန်းလျာအဝတ်တို့ကို ထားသော်လည်း အာပတ်မသင့်၊ အပြစ်မရှိခြင်းဟူသော အကျိုးအာနိသင်ကိုရရှိကြသည်။

**(၅) ယော စ တတ္ထ စီဝရုပ္ပါဒေါ၊ သောနေသံ ဘဝိဿတိ။**

သာမန်အချိန်၌ ကျောင်းတိုက်သံဃာတော်များအား ဒကာ၊ ဒကာမတို့က သံဃဿ ဒေမ သံဃာတော်အားလှူဒါန်းပါကုန်၏ဟုဆို၍ သင်္ကန်းအစုံများစွာတို့ကို လှူဒါန်းလျှင် အလည်အပတ် ခေတ္တရောက်ရှိလာသော အာဂန္တုကရဟန်းတို့အားလည်း ဝေစုပေးရသည်၊ မပေးလို့မရ။

ကထိန်ခင်းလျှင် တပေါင်းလပြည့်နေ့ထိ (၅)လဝန်းကျင်ကာလ၌ ၎င်းကျောင်းတိုက်သံဃာတော်အား သံဃဿ ဒေမ- ဟုဆို၍ ဒကာ၊ ဒကာမတို့က သင်္ကန်းအစုံတစ်ရာ၊ တစ်ထောင်စသည်ဖြင့် လှူကြရာ၌ အာဂန္တုသံဃာများအား ဝေစုခွဲပေးစရာမလိုဘဲ ကျောင်းတိုက်သံဃာများသာ ဝေစုခွဲဝေယူကြရခြင်း အကျိုးကိုရရှိကြသည်။

# "ကထိနုဒ္ဓါရ- ကထိန်နုတ်ခြင်း"

**ကထိနုဒ္ဓါရ-** ကထိန်နုတ်ခြင်းဟူသည် ခင်းအပ်ပြီးသောကထိန်ကို ဖျက်ပစ်လိုက်ခြင်း ပင်ဖြစ်သည်၊ သိမ်အတွင်း၌ ဉတ်ကမ္မစာရွတ်ဖတ်၍ ကထိန်နုတ်ခြင်းကို **ကထိနုဒ္ဓါရ-** ခင်းအပ်ပြီးကထိန်ကို ဖျက်ပစ်ခြင်းဟုခေါ်သည်၊ သိမ်အတွင်း ကမ္မဝါစာ မဖတ်ဘဲ ကျောင်းတိုက်မှကထိန်ခင်းသောရဟန်းထွက်သွားလျှင်လည်း ၎င်းရဟန်းအတွက် ကထိန်နုတ်ပြီးဖြစ်သည်၊ ခင်းပြီးသောကထိန် ပျက်ပြယ်သွားသည်ဟု- အကျဉ်းချုပ် မှတ်ယူရမည်။

**ကထိန်ခင်းခြင်း=** ကထိနတ္ထာရ

**ကထိနတ္ထာရ-** ကထိန်ခင်းခြင်းကို သဘောပေါက်အောင်ပြောရမည်ဆိုလျှင်--

**ဥပမာ။** ။ ကော်ဇောလိပ်ကြီးကို မခင်းဘဲလိပ်ထားလျှင် လူများစွာထိုင်ခွင့်မရ, လူနည်းစုသာ အဆင်မပြေစွာ ထိုင်လို့ရ, လဲလျောင်းလို့ရမည်၊ ကော်ဇောလိပ်ကိုဖြေ၍ ဖြန့်ခင်းလိုက်လျှင် ကော်ဇောပိုင်ရှင်နှင့်တကွ အခြားလူများစွာတို့ ထိုင်ခွင့်, လဲလျောင်းခွင့်ရကြမည်၊ ချမ်းသာမှုရကြမည်။

**ထို့အတူ=** ကထိန်သင်္ကန်းကိုရရှိသောရဟန်းသည် ဝိနည်းဒေသနာတော်နှင့်အညီ ကထိန်မခင်းဘဲ ကထိန်ခင်းခြင်းအစီအစဉ်ကိုမဆောင်ရွက်ဘဲနေလျှင် ၎င်းရဟန်းတစ်ပါးတည်း~~သာ~~ အကျိုးအာနိသင်ခံစားရ~~မည်~~၊ အခြားရဟန်းများ ခံစားခွင့်မရ၊ ၎င်းရဟန်းသည် ကထိန်ခင်းခြင်းအစီအစဉ်ကို မြတ်စွာဘုရားပညတ်တော်အတိုင်းဆောင်ရွက် ခင်းလိုက်လျှင် ၎င်းရဟန်းနှင့်တကွ ကျန်ရဟန်းများစွာတို့သည်လည်း ကထိန်၏အကျိုးအာနိသင်(၅)မျိုးကို ရကြသည်၊ အားလုံးချမ်းသာကြသည်။

# "ကထိန်သင်္ကန်း လှူခွင့်ရှိပုဂ္ဂိုလ်များ"

ကထိန်သင်္ကန်းကို လူဖြစ်စေ, နတ်ဗြဟ္မာဖြစ်စေ, ရဟန်းယောကျ်ား, ရဟန်းမိန်းမ၊ ရှင်သာမဏေယောကျ်ား, ရှင်သာမဏေမိန်းမ, သိက္ခမာန်ဖြစ်စေ လှူလျှင် ကထိန်အလှူ အထမြောက်အောင်မြင်သည်ဟု အဋ္ဌကထာ ပါစိတျာဒိအဋ္ဌကထာ (၃၈၉)၌ ဖွင့်ဆိုထား သည်။

## "ကထိန်ခင်းထိုက်သူ"

ရဟန်းအပေါင်းဟူသော သံဃာတော်က ကထိန်သင်္ကန်းပေးခံရသော ရဟန်းတော်တစ်ပါးသည်သာ ကထိန်ခင်းခွင့်ရသည်။

## "သံဃာက ကထိန်သင်္ကန်းပေးထိုက်သူ"

သင်္ကန်းဟောင်းနွမ်းဆွေးမြေ့ပျက်စီးနေသော ရဟန်းတော်အား သံဃာက ကထိန သင်္ကန်းပေးရမည်။

**ဥပမာ။** ။ (၂)ထပ် ဒုက္ကဋ္ဌသင်္ကန်းကြီးကို ကထိန်ခင်းရန်လှူဒါန်းထားလျှင် (၂)ထပ်သင်္ကန်း ဆွေးမြေ့ဟောင်းနွမ်းနေသော (၂)ထပ်သင်္ကန်းကြီး မရှိသောရဟန်းအား ကထိန်သင်္ကန်းပေးရမည်၊ (၂)ထပ်သင်္ကန်းပြည့်စုံသူချည်းဖြစ်လျှင် သိက္ခာဝါအကြီးဆုံးရဟန်းတော်အားပေးရမည် စသည်ဖြင့် ကျင့်ဝတ်ကိုလည်း မြတ်စွာဗုဒ္ဓ ဟောတော်မူထားပေသည်။

## "ကထိန်မပုပ်, မသိုးအောင်"

မြတ်စွာဗုဒ္ဓခေတ်တွင် ကထိန်သင်္ကန်းလျှာအဝတ် ယခုခေတ်တွင် ကထိန်သင်္ကန်းကို ရရှိသောရဟန်းသည် ၎င်းကထိန်ကိုရသောနေ့၌ပင် နောက်နေ့အာရုဏ်မတက်မီ သိမ်ထဲဝင်၍ ကထိန်ခင်းခြင်းအစီအစဉ်ကို ဆောင်ရွက်ရသည်၊ သို့မှသာ ကထိန်ခင်းခြင်းအောင်မြင်သည်၊ အကယ်၍- အကြောင်းအမျိုးမျိုးကြောင့် ကထိန်သင်္ကန်းကိုအလှူခံရသောနေ့၌ ကထိန်မခင်းဘဲ နောက်နေ့အာရုဏ်တက်ချိန်ကျော်လွန်သွားလျှင် ကထိန်ပုပ်သိုးသည်ဟု ဆိုသည်၊ ကထိန်ခင်းသော်လဲ အထမမြောက်, မအောင်မြင်တော့ပေ။

ပုပ်သိုးသောအစားအစာ အသီးအနှံကိုစားလျှင် ဒုက္ခရောက်သကဲ့သို့ ပုပ်သိုးသော ကထိန်ကိုခင်းလျှင်လည်း မြတ်ဗုဒ္ဓ၏ဥပဒေကို ဖျက်ဆီးရာရောက်သည့်အတွက် ဆိုးကျိုးခံစားရနိုင်သည်။

### ငါ့ရှင် ဦးသရဏ

ငါ့ရှင်၏စာတမ်းသည် ရဟန်း၊ ဂ၊ လူများစွာတို့နားမလည်နိုင် သဘောမပေါက်နိုင်သော အသုံးအနှုန်းများစွာပါရှိပါသည်၊ သို့အတွက် ယခုတပည့်တော်ရေးသားထားသောအခြင်းအရာများသည် မြတ်စွာဘုရားရှင်၏အာဘော်အတိုင်း အဋ္ဌကထာ, ဋီကာဆရာတို့ရေးသားထားသည်ကို ဖော်ပြခြင်းဖြစ်၍ သည်ထဲမှလိုအပ်သည်ကိုယူ၍ စာတမ်းပြုစုသင့်ပါကြောင်း အကြံပြုပါသည်။